Wilmar Myanmar Riceland Limited မှတင်ပြသည့် အဆိုပြုလွှာနှင့် စပ်လျဉ်း၍
လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့် ရက်စွဲ | အကြောင်းပြန်ကြားသည့် ရက်စွဲ/ကုမ္ပဏီမှတင်ပြသည့် ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်တင်ပြလာခြင်း | | ၅-၁၂-၂၀၁၈ | |
| ၂ | လုပ်ငန်းလိုအပ်ချက်အရ သက်ဆိုင်ရာဝန်ကြီးဌာနများသို့ သဘောထားတောင်းခံခြင်း<br>- ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန(One Stop Service) | ၇-၁၂-၂၀၁၈ | ၁၃-၁၂-၂၀၁၈ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့ တင်ပြခြင်း | ၃၉/၂၀၁၈<br>(၁၀-၁၂-၂၀၁၈) | | |
| ၄ | အဆိုပြုချက်အပေါ်ပြင်ဆင် တင်ပြရမည့် အချက်များအကြောင်းကြားခြင်း | ၁၉-၁၂-၂၀၁၈ | ၂၈-၁၂-၂၀၁၈ | PAT ဆုံးဖြတ်ချက် အကြောင်း ကြားပါသည်။ |
| ၅ | အဆိုပြုချက်အားကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | ၁/၂၀၁၉<br>(၁၁-၁-၂၀၁၉) | | |
| | **စုစုပေါင်းကြာမြင့်ရက်** | **( ၃၆ ) ရက်** | | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Wilmar Myanmar Riceland Limited မှ ဆန်နှင့် ဆန်ဆက်စပ်ထုတ်ကုန်များ (ဆန်ကွဲ၊ ဆန်မှုန့်၊ ဆန်ဖွဲ၊ ဆန်ဖွဲနုဆီ၊ စပါးခွံ) ထုတ်လုပ်ခြင်း၊ ရောင်းချခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ | - Wilmar Myanmar Riceland Limited |
| | ကမကထပြုသူ | - Wilmar Investment Holdings Pte. Ltd. |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Wilmar Investment Holdings Pte. Ltd. (စင်္ကာပူ) ၄၀%<br>- RLG Holding Limited (ဟောင်ကောင်) ၄၀%<br>- Staple Food Supply Company Limited (မြန်မာ) ၂၀% |
| | လုပ်ငန်းအမျိုးအစား | - ဆန်နှင့် ဆန်ဆက်စပ်ထုတ်ကုန်များ (ဆန်ကွဲ၊ ဆန်မှုန့်၊ ဆန်ဖွဲ၊ ဆန်ဖွဲနုဆီ၊ စပါးခွံ) ထုတ်လုပ်ခြင်း၊ ရောင်းချခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ သီလဝါ ဆိပ်ကမ်းဧရိယာ မြေကွက်အမှတ်-၂၀ နှင့် ၂၁ ရှိ မြေဧရိယာ ၇၄.၁၃၁ ဧက နှင့် သီလဝါ ဆိပ်ကမ်းဧရိယာ မြေကွက် အမှတ်- ၂၁ နှင့် ၂၂ တို့နှင့် ကပ်လျက်ရှိ မြေဧရိယာ ၂၆ ဧက စုစုပေါင်း မြေဧရိယာ ၁၀၀.၁၃၁ ဧက အနက်မှ ၃၀ ဧက |
| ၃။ | မြေပိုင်ရှင် | - မြန်မာ့ဆိပ်ကမ်းအာဏာပိုင် |
| | မြေအကျယ်အဝန်း | - မြေဧရိယာ ၃၀ ဧက (၁၂၁,၄၀၆ စတုရန်းမီတာ) |
| ၄။ | နှစ်စဉ်မြေငှားရမ်းခ | - အမေရိကန်ဒေါ်လာ ၆၀၇,၀၃၀<br>- (တစ်နှစ်တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ၅.၀၀၀နှုန်း) |
| | မြေငှားရမ်းကာလ | - ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| ၅။ | လုပ်ငန်းသက်တမ်း | - ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် |
| | တည်ဆောက်ရေးကာလ | - ၂၄ လ |
| ၆။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ | - အမေရိကန်ဒေါ်လာ ၁၀၆.၀၀၀ သန်း |

(US$/သန်း)

| | ပြည်ပ | ပြည်တွင်း | ချေးငွေ (ပြည်တွင်း) | စုစုပေါင်း |
|---|---|---|---|---|
| ငွေသား | ၂၅.၄၄၀ (၈၀%) | ၆.၃၆၀ (၂၀%) | ၇၄.၂၀၀ | ၁၀၆.၀၀၀ |

| | | |
|---|---|---|
| ၇။ | ဝန်ထမ်းအင်အား | - ၂၁၆ ဦး |
| | ပြည်တွင်း | - ၁၉၀ ဦး (ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၃၇၀,၀၀၀ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၄၉၀,၀၀၀ ဖြစ်ပါသည်။) |
| | ပြည်ပ | - ၂၆ ဦး (ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁,၂၀၀ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၃,၀၄၀ ဖြစ်ပါသည်။) |
| ၈။ | ရောင်းချမည့်စနစ် | - ပြည်တွင်းရောင်း၊ ပြည်ပတင်ပို့ |

နှစ်စဉ်ထုတ်လုပ်မှု (ပထမနှစ်)

| စဉ် | အမျိုးအမည် | ပြည်တွင်းရောင်း အရေအတွက် (MT) | ပြည်တွင်းရောင်း ရောင်းဈေးနှုန်း (ကျပ်/MT) | ပြည်ပတင်ပို့ အရေအတွက် (MT) | ပြည်ပတင်ပို့ ရောင်းဈေးနှုန်း (US$/MT) |
|---|---|---|---|---|---|
| ၁။ | Fragrant Rice (Paw San) | ၆၅,၁၅၀ | ၈၁၀,၀၀၀ | - | - |
| ၂။ | White Rice (Nga Sein, Emata) | ၃၀,၁၄၈ | ၄၉၉,၅၀၀ | ၃၀,၁၄၈ | ၃၇၀ |
| ၃။ | Parboiled Rice | - | - | ၆၅,၂၆၅ | ၄၂၀ |
| ၄။ | Broken | ၁၉,၄၄၀ | ၃၆၇,၂၀၀ | - | - |
| ၅။ | Bran | ၃၂,၄၀၀ | ၂၀၇,၉၀၀ | - | - |
| ၆။ | Husk | ၇၂,၄၆၈ | ၂၂,၉၅၀ | - | - |
| ၇။ | RBO | ၁၅,၇၇၆ | ၁,၁၀၁,၈၀၀ | | |

| | | |
|---|---|---|
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၇၃,၉၃၀,၀၀၀ kWh |
| ၁၀။ | အခြားတင်ပြချက် | - Wilmar Myanmar Riceland Limited ၏ ကုမ္ပဏီ မှတ်ပုံတင် လက်မှတ်တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများနှင့် နိုင်ငံကူး လက်မှတ် မိတ္တူများ တင်ပြထားပါသည်။<br>- Wilmar Investment Holdings Pte. Ltd.၊ RLG Holding Limited နှင့် Staple Food Supply Company Limited တို့ ချုပ်ဆိုမည့် ဖက်စပ်သဘောတူ စာချုပ် (မူကြမ်း) တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | - မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် Wilmar Myanmar Port Terminals (Thilawa) Limited တို့ချုပ်ဆိုထားသည့် BOT စာချုပ်နှင့် မြေငှားစာချုပ်၊ Wilmar Myanmar Port Terminals (Thilawa) Limited နှင့် Wilmar Myanmar Riceland Limited တို့ချုပ်ဆိုမည့် Sub-Lease စာချုပ် (မူကြမ်း) တို့ကို တင်ပြထားပါသည်။<br>- Wilmar Investment Holdings Pte. Ltd.၊ RLG Holding Limited နှင့် Staple Food Supply Company Limited တို့၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် မိတ္တူများ တင်ပြထား ပါသည်။<br>- ငွေရေးကြေးရေး အထောက်အထားအဖြစ် Staple Food Supply Co., Ltd. အမည်ဖြင့် မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်တွင် ၆-၇-၂၀၁၈ ရက်စွဲဖြင့် US$ ၁၀၀ ရှိကြောင်း၊ စင်္ကာပူနိုင်ငံရှိ DBS Bank Ltd. မှ Wilmar Investment Holdings Pte. Ltd. အား ငွေကြေးခိုင်မာမှုရှိကြောင်း ထောက်ခံစာနှင့် ထိုင်းနိုင်ငံရှိ Kasikornbank မှ RLG Holding Limited ၏ မိခင်ကုမ္ပဏီဖြစ်သည့် Riceland International Limited ၏ ငွေကြေးခိုင်မာမှုရှိကြောင်း ထောက်ခံစာများ တင်ပြထားပါသည်။<br>- စက်ရုံတည်နေရာပြမြေပုံ၊ စက်ရုံ Layout Plan၊ လုပ်ငန်းလည်ပတ်ပုံအဆင့်ဆင့်တို့ကို တင်ပြထားပါသည်။<br>- ဝန်ထမ်းသက်သာချောင်ချိရေး အစီအမံ၊ မီးဘေးကာကွယ်ရေးဆောင်ရွက်ချက်၊ CSR အစီအစဉ်တို့ကို တင်ပြထားပါသည်။<br>- ချေးငွေ အမေရိကန်ဒေါ်လာ ၇၄.၂၀၀ သန်း ပါဝင်မည် ဖြစ်ပြီး Wilmar Myanmar Riceland Limited မှ ပြန်လည်ပေးဆပ်မည် ဖြစ်ပါသည်။<br>- US$ ၈၈.၁၃၂ သန်း တန်ဖိုးရှိ လုပ်ငန်းသုံးစက်ပစ္စည်းများနှင့် US$ ၁၉.၇၄၈ သန်း တန်ဖိုးရှိ ဆောက်လုပ်ရေးသုံး ပစ္စည်းများအား ပြည်ပမှတင်သွင်းမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်နေ့စွဲပါ အမိန့်ကြော်ငြာစာ ၁၃/၂၀၁၇ အရ **ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ** တွင်ပါဝင်ပြီး ISIC 1061 တွင်ပါဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ် တွင် ဆောင်ရွက်မည်ဖြစ်၍ ဖွံ့ဖြိုးတိုးတက်မှု ဇုန်(၂) တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/ ခ-၀၃၈/ ၂၀၁၉( ၀၀၅ )
ရက်စွဲ ၊ ၂၀၁၉ ခုနှစ် ဇန်နဝါရီလ ၃ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့
တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Wilmar Myanmar Riceland Limited မှ ဆန်နှင့် ဆန်ဆက်စပ်ထုတ်ကုန်များ (ဆန်ကွဲ၊ ဆန်မှုန့်၊ ဆန်ဖွဲ၊ ဆန်ဖွဲနုဆီ၊ စပါးခွံ) ထုတ်လုပ်ခြင်း၊ ရောင်းချခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ စင်္ကာပူနိုင်ငံ Wilmar Investment Holdings Pte. Ltd. မှ ၄၀%၊ ဟောင်ကောင် RLG Holding Limited မှ ၄၀% နှင့် မြန်မာနိုင်ငံမှ Staple Food Supply Company Limited မှ ၂၀% အစုရှယ်ယာများထည့်ဝင်ကာ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Wilmar Myanmar Riceland Limited တည်ထောင်ပြီး ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်းဧရိယာ မြေကွက် အမှတ်-၂၀ နှင့် ၂၁ ရှိ မြေဧရိယာ ၇၄.၁၃၁ ဧက နှင့် သီလဝါဆိပ်ကမ်းဧရိယာ မြေကွက် အမှတ်- ၂၁ နှင့် ၂၂ တို့နှင့် ကပ်လျက်ရှိ မြေဧရိယာ ၂၆ ဧက စုစုပေါင်း မြေဧရိယာ ၁၀၀.၁၃၁ ဧက အနက်မှ ၃၀ ဧကကို ငှားရမ်း၍ ဆန်နှင့် ဆန်ဆက်စပ် ထုတ်ကုန်များ (ဆန်ကွဲ၊ ဆန်မှုန့်၊ ဆန်ဖွဲ၊ ဆန်ဖွဲနုဆီ၊ စပါးခွံ) ထုတ်လုပ်ခြင်း၊ ရောင်းချခြင်းနှင့် ဖြန့်ဖြူးခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ မြေပိုင်ရှင် မြန်မာ့ဆိပ်ကမ်းအာဏာပိုင်နှင့် မြေငှားသူ Wilmar Myanmar Port Terminals (Thilawa) Limited တို့ ချုပ်ဆိုထားသော Build-Operate-Transfer စာချုပ်နှင့် မြေငှားရမ်းခြင်း စာချုပ်တို့ကို တင်ပြထားပါသည်။ Wilmar Myanmar Port Terminals (Thilawa) Limited နှင့် Wilmar Myanmar Riceland Limited တို့ ချုပ်ဆိုထားသော Sub-Lease Agreement (မူကြမ်း) အား တင်ပြထားပါသည်။

၃။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ် ဖြစ်ပါသည်။ မြေအကျယ်အဝန်းမှာ စုစုပေါင်းမြေဧရိယာ ၃၀ ဧက (၁၂၁,၄၀၆ စတုရန်းမီတာ) ဖြစ်ပြီး တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၅.၀၀၀ နှုန်းဖြင့် တစ်နှစ်လျှင် မြေငှားရမ်းခ အမေရိကန်ဒေါ်လာ ၆၀၇,၀၃၀ ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် နှင့် သက်တမ်းတိုး ၁၀နှစ် ၂ကြိမ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၂၄ လ ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းမှာ အမေရိကန်ဒေါ်လာ ၁၀၆.၀၀၀ သန်း ဖြစ်၍ အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

(US$/သန်း)

| | ပြည်ပ | ပြည်တွင်း | ချေးငွေ (ပြည်တွင်း) | စုစုပေါင်း |
|---|---|---|---|---|
| ငွေသား | ၂၅.၄၄၀ (၈၀%) | ၆.၃၆၀ (၂၀%) | ၇၄.၂၀၀ | ၁၀၆.၀၀၀ |

၆။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၁၉၀ ဦးနှင့် ပြည်ပဝန်ထမ်း ၂၆ ဦး စုစုပေါင်း ဝန်ထမ်းဦးရေ ၂၁၆ ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၃၇၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၄၉၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁,၂၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၃,၀၄၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်တွင်းရောင်း၍လည်းကောင်း၊ ပြည်ပသို့တင်ပို့၍လည်းကောင်း ဆောင်ရွက်မည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပထမနှစ်ရှိ ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအမည် | ပြည်တွင်းရောင်း | | ပြည်ပတင်ပို့ | |
|---|---|---|---|---|---|
| | | အရေအတွက် (MT) | ရောင်းဈေးနှုန်း (ကျပ်/MT) | အရေအတွက် (MT) | ရောင်းဈေးနှုန်း (US$/MT) |
| (က) | Fragrant Rice (Paw San) | ၆၅,၁၅၀ | ၈၁၀,၀၀၀ | - | - |
| (ခ) | White Rice (Nga Sein, Emata) | ၃၀,၁၄၈ | ၄၉၉,၅၀၀ | ၃၀,၁၄၈ | ၃၇၀ |
| (ဂ) | Parboiled Rice | - | - | ၆၅,၂၆၅ | ၄၂၀ |
| (ဃ) | Broken | ၁၉,၄၄၀ | ၃၆၇,၂၀၀ | - | - |
| (င) | Bran | ၃၂,၄၀၀ | ၂၀၇,၉၀၀ | - | - |
| (စ) | Husk | ၇၂,၄၆၈ | ၂၂,၉၅၀ | - | - |
| (ဆ) | RBO | ၁၅,၇၇၆ | ၁,၁၀၁,၈၀၀ | | |

၈။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) **သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန** မှ အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံ ဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင် အမြတ်ငွေ၏ ၁% ကို အသုံးပြုခြင်း အပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျ လိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃)နှင့်အညီ ဆောင်ရွက်ရန်၊ အထက်ပါလေ့လာ ဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့်လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ် ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ပတ်ဝန်းကျင် ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံး

လုပ်နည်းပါ အချက်အလက် များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်လိုအပ်ပါကြောင်း သဘောထားပြန်ကြားထား ပါသည်။ **နောက်ဆက်တွဲ-က**

၉။ ငွေရေးကြေးရေး အထောက်အထားအဖြစ် Staple Food Supply Co., Ltd. အမည်ဖြင့် မြန်မာ့နိုင်ငံခြားကုန်သွယ်မှုဘဏ်တွင် ၆-၇-၂၀၁၈ ရက်စွဲဖြင့် US$ ၁၀၀ ရှိကြောင်း၊ စင်္ကာပူနိုင်ငံရှိ DBS Bank Ltd. မှ Wilmar Investment Holdings Pte. Ltd. အား ငွေကြေးခိုင်မာမှု ရှိကြောင်း ထောက်ခံစာနှင့် ထိုင်းနိုင်ငံရှိ Kasikornbank မှ RLG Holding Limited ၏ မိခင် ကုမ္ပဏီဖြစ်သည့် Riceland International Limited ၏ ငွေကြေးခိုင်မာမှုရှိကြောင်း ထောက်ခံစာ များ တင်ပြထားပါသည်။

၁၀။ Wilmar Myanmar Riceland Limited မှ စက်ရုံတည်နေရာပြမြေပုံ၊ စက်ရုံ Layout Plan၊ လုပ်ငန်းလည်ပတ်ပုံအဆင့်ဆင့်၊ ဝန်ထမ်းသက်သာချောင်ချိရေးအစီအမံ၊ မီးဘေးကာကွယ်ရေး ဆောင်ရွက်ချက်၊ CSR အစီအစဉ်တို့ကို ကိုလည်း တင်ပြထားပါသည်။

၁၁။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၇ ခုနှစ် ဒီဇင်ဘာလ ၁၀ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၃၉/၂၀၁၈ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**စိစစ်တင်ပြချက်**

၁၂။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ တွင်ပါဝင်ပြီး ISIC 1061 တွင်ပါဝင်ပါသည်။

(ခ) အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်နေရာသည် ဖွံ့ဖြိုးတိုးတက်မှုဇုန်(၂)-ဖွံ့ဖြိုးမှု အသင့်အတင့် ရှိသောဒေသ တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

(ဃ) အဆိုပြုတင်ပြလာသည့် လုပ်ငန်းအမျိုးအစားနှင့် အလားတူလုပ်ငန်း (၄)ခု အား ကော်မရှင် မှခွင့်ပြုခဲ့ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၃။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Wilmar Myanmar Riceland Limited မှ ဆန်နှင့် ဆန်ဆက်စပ် ထုတ်ကုန်များ (ဆန်ကွဲ၊ ဆန်မှုန့်၊ ဆန်ဖွဲ၊ ဆန်ဖွဲနုဆီ၊ စပါးခွံ) ထုတ်လုပ်ခြင်း၊ ရောင်းချခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၇၄/၂၀၈)
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ ဒီဇင်ဘာလ ၇၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

MIC ၊ 4/L 13/12

အကြောင်းအရာ။ **Wilmar Myanmar Riceland Limited မှ ဆန်၊ ဆန်ဖွဲနုဆီ၊ ဆန်မှုန့်နှင့် ဆန်မှုန့်အခြေခံထွက်ကုန်များ ထုတ်လုပ်ခြင်း၊ ရောင်းချခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ကုမ္ပဏီအသုံးပြုရန်အတွက် စပါးခွံများလောင်ကျွမ်းခြင်းမှတဆင့် လျှပ်စစ်စွမ်းအား ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇-၁၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၂/ ခ-၀၃၇/ ၂၀၁၈(၅၆၅)

၁။ စင်္ကာပူနိုင်ငံရှိ Wilmar Investment Holdings Pte. Ltd. မှ ၄၀%၊ ဟောင်ကောင်ရှိ RLG Holding Limited မှ ၄၀% နှင့် မြန်မာနိုင်ငံမှ Staple Food Supply Company Limited မှ ၂၀% ထည့်ဝင်၍ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Wilmar Myanmar Riceland Limited တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ ကျောက်တန်းမြို့နယ်၊ သီလဝါဆိပ်ကမ်းဧရိယာ၊ သီလဝါဆိပ်ကမ်းဧရိယာမြေကွက်အမှတ်- ၂၀ နှင့် ၂၁ ရှိမြေဧရိယာ ၇၄.၁၃၁ ဧကနှင့် သီလဝါဆိပ်ကမ်းဧရိယာ မြေကွက်အမှတ်-၂၁ နှင့် ၂၂ တို့နှင့် ကပ်လျက်ရှိ မြေဧရိယာ ၂၆ ဧက၊ စုစုပေါင်း မြေဧရိယာ ၁၀၀.၁၃၁ ဧက အနက်မှ ၃၀ ဧက (၁၂၁,၄၀၆.၀၀ စတုရန်းမီတာ)တွင် ဆန်၊ ဆန်ဖွဲနုဆီ၊ ဆန်မှုန့်နှင့် ဆန်မှုန့်အခြေခံထွက်ကုန်များ ထုတ်လုပ်ခြင်း၊ ရောင်းချခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ကုမ္ပဏီအသုံးပြုရန်အတွက် စပါးခွံများလောင်ကျွမ်းခြင်းမှတဆင့် လျှပ်စစ်စွမ်းအား ထုတ်လုပ်ခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂)ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၂)နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအတွက် Myanma Port Authority နှင့် Wilmar Myanmar Port Terminals (Thilawa) Limited တို့အကြား ၂၀၁၄ ခုနှစ် ဒီဇင်ဘာလ ၂၁ ရက်နေ့တွင် ချုပ်ဆိုခဲ့သော B.O.T စနစ်ဖြင့် မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်၊ ၂၀၁၈ ခုနှစ်၊ မေလ ၁၆ ရက် နေ့တွင် ပြန်လည်ပြင်ဆင်ချုပ်ဆိုခဲ့သည့် မြေငှားရမ်းခြင်းဆိုင်ရာ သဘောတူစာချုပ်နှင့် Wilmar Myanmar Port Terminals (Thilawa) Limited မှ

Wilmar Myanmar Riceland Limited သို့ တစ်ဆင့်ပြန်လည်အငှားချထားမည့် Sub-Lease Agreement စာချုပ် (မူကြမ်း) ဖော်ပြပါရှိ ပါကြောင်း၊

(ဂ) အဆိုပြုလုပ်ငန်းကို Wilmar Investment Holdings Pte. Ltd.၊ Staple Food Supply company Limited၊ RLG Holding Limited နှင့် Wilmar Myanmar Riceland Limited တို့အကြား အကျိုးတူပူးပေါင်းဆောင်ရွက်မည့် Joint Venture Agreement စာချုပ် (မူကြမ်း) ဖော်ပြပါရှိ ပါကြောင်း၊

(ဃ) အဆိုပြုလုပ်ငန်းမှာ Wilmar Myanmar Port Terminals (Thilawa) Limited မှ ဆိပ်ကမ်းလုပ်ငန်းဆောင်ရွက်ခွင့် ရရှိခဲ့သည့် စုစုပေါင်းမြေ ၁၀၀.၁၃၁ ဧက ပေါ်တွင် ၇.၄၁၃ ဧက အား ဂျုံပစ္စည်းများနှင့် ဂျုံဘေးထွက်ပစ္စည်းများ ထုတ်လုပ်ခြင်းနှင့် ရောင်းချခြင်းလုပ်ငန်း၊ ၆.၆၂၂ ဧကအား Construction and Operation of storage tanks, terminals, ware- houses and other storage facilities for edible oils and its related products လုပ်ငန်း၊ ၇.၄၁ ဧကအား ပုလင်းသွင်းထားသော စားသုံးဆီများ၊ ထုတ်ပိုးထားသော စားသုံးဆီများနှင့် ၎င်းတို့၏ ဆက်စပ်ထုတ်ကုန်များ ထုတ်လုပ်ခြင်း၊ ရောင်းချခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်း ဆောင်ရွက်နေပြီးဖြစ်ကာ ယခုမြေ ၃၀ ဧကတွင် (၁၂၁,၄၀၆.၀၈၈စတုရန်းမီတာ)တွင် ဆန်၊ ဆန်ဖွဲနုဆီ၊ ဆန်မှုန့်နှင့် ဆန်မှုန့်အခြေခံထွက်ကုန်များထုတ်လုပ်ခြင်း၊ ရောင်းချခြင်းနှင့် ဖြန့်ဖြူးခြင်းလုပ်ငန်း ထပ်မံ ဆောင်ရွက်ခြင်း ဖြစ်ကြောင်း၊

(င) လိုအပ်သော သိုလှောင်ရုံများ၊ ဆန်ကြိတ်ခွဲစက်၊ ဆန်ပေါင်းခံစက်၊ ဖွဲနုဆီထုတ်လုပ်သည့် အဆောက်အဦ၊ ကုန်ထုပ်ပိုးသည့် အဆောက်အဦစသည်တို့နှင့် ဆန်စက်မှ ထွက်ရှိလာမည့် စပါးခွံများကို အသုံးပြု၍ လျှပ်စစ်ဓာတ်အား ထုတ်လုပ်ရန် လိုအပ်မည့် ဘွိုင်လာ (၂) လုံး နှင့်မီးစက် (၂) လုံးထားရှိရန် အဆောက်အဦများ တည်ဆောက်ကာလုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်မှုအနေဖြင့် တစ်ရက်လျှင်ဆန် မက်ထရစ်တန် (၁၈၀၀) အခြေခံနှင့် ဖွဲနုဆီမက်ထရစ်တန် (၄၀၀) တို့အား ထုတ်လုပ်၍ ပြည်ပသို့ တင်ပို့ရောင်းချသွားမည် ဖြစ်ကြောင်း၊

(ဆ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဇ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၁%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဈ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့် ညွှန်ကြားချက်

များကို လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကာ လိုအပ်သော စွန့်ပစ်ရေသန့်စင်ခြင်း စနစ်ကို လည်း တည်ဆောက်တပ်ဆင်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Wilmar Myanmar Riceland Limited မှ ဆန်၊ ဆန်ဖွဲနုဆီ၊ ဆန်မှုန့်နှင့် ဆန်မှုန့်အခြေခံ ထွက်ကုန်များ ထုတ်လုပ်ခြင်းလုပ်ငန်း ဆောင်ရွက်ရန်အတွက် အဆောက်အဦများ တည်ဆောက်ရန်အတွက် မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ် ငန်းသုံး ယာဉ်/ ယန္တရား များမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိ လေ ထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) လုပ်ငန်းသုံး ယာဉ်ယန္တရားများ၏ စွန့်ပစ်ပစ္စည်းများဖြစ်သည့် စက်သုံးဆီ၊ ချောဆီများနှင့် ဆူညံသံများကြောင့် အသံညစ်ညမ်းမှု ဖြစ်ပေါ်နိုင်ခြင်း၊

(ဂ) လုပ်ငန်းအတွက် လိုအပ်သည့် လျှပ်စစ်ဓာတ်အား ထုတ်ယူရာတွင် အသုံးပြုမည့် စပါးခွံလောင်စာသုံး လျှပ်စစ်ဓာတ်အားပေးစက်ရုံမှ ထွက်ရှိလာမည့် ကတ္တရာများ၊ အမှုန့်အမွှားများနှင့် Green House Gas-GHG များကြောင့် ပတ်ဝန်းကျင်ရှိ ပြည်သူများ၏ ကျန်းမာရေးကို ထိခိုက်စေနိုင်ခြင်း၊ အိုဇုန်းလွှာ ထိခိုက်ပျက်စီးစေနိုင်ခြင်း၊

(ဃ) လုပ်ငန်းများ လည်ပတ်ဆောင်ရွက်ပါက ဆန်ကြိတ်ခွဲရာမှ ထွက်ရှိလာမည့် အမှုန့်အမွှားများ၊ ဆူညံသံများ၊ အစိုင်အခဲ စွန့်ပစ်ပစ္စည်းများ၊ စွန့်ပစ်ရေဆိုးများ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင် ရေထု၊ မြေထု ညစ်ညမ်းခြင်းနှင့် ပတ်ဝန်းကျင်တွင်နေထိုင်သော ပြည်သူလူထုကို အနှောင့်အယှက်ဖြစ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Wilmar Myanmar Riceland Limited မှ ဆန်၊ ဆန်ဖွဲနုဆီ၊ ဆန်မှုန့်နှင့် ဆန်မှုန့်အခြေခံထွက်ကုန်များ ထုတ်လုပ်ခြင်း၊ ရောင်းချခြင်း၊ ဖြန့်ဖြူးခြင်းနှင့် ကုမ္ပဏီအသုံးပြုရန်အတွက် စပါးခွံများလောင်ကျွမ်းခြင်းမှတဆင့် လျှပ်စစ်စွမ်းအား ထုတ်လုပ်ခြင်းလုပ်ငန်းအား ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထား မှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများ ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ ကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့်နည်းစနစ်များ အားအသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင် ရွက်မှု (Corporate Social Responsibility-CSR) အတွက်အသားတင်

အမြတ်ငွေ၏ ၁% ကိုအသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကိုတိတိကျကျ လိုက်နာအကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့်အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း **(Environmental Impact Assessment-EIA)** မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက်ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း အပိုဒ် ၄၇ မှ အပိုဒ် ၅၄ထိ ဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့်ဆောင်ရွက်မည့်လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ ဆောင်ရွက်သွားမည့် လုပ်ငန်းတစ်ခုချင်းအလိုက် လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်း သိမ်းရေးဝန်ကြီးဌာနသို့တင်ပြ အတည်ပြုချက်ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီးသယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ ရေးဆွဲတင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သောပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်

ရွက်ရန်နှင့် တင်ပြရမည့်အစီအစဉ်အလိုက် လိုအပ်သည့်ပုံစံများဖြည့်စွက်၍တစ်ပါတည်း တင်ပြရန်၊

(ဓ) သက်ဆိုင်ရာတိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ဆန္ဒနှင့် သဘောထားများကိုလည်းရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင် (ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ